ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၀၆၂/၂၀၁၅။ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၂၈ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကျော်လွင်

(ခ) **အဘ အမည်** ဦးအလင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၆/ကသန (နိုင်) ၀၀၄၇၃၈

(ဃ) **နေရပ်လိပ်စာ** အမှတ် - ၂၈၀၊ ပိတောက်လမ်း၊ အဏ္ဏဝါရပ်ကွက်၊ ကော့သောင်းမြို့၊ တနင်္သာရီတိုင်းဒေသကြီး။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Grand Andaman Company Limited (ဂရမ်းအက်ဒမန် ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင်၊ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့အနီး၊ သူဌေးကျွန်း (ပိုလိုရှူးကျွန်း)ရှိ မြေ (၁၈၀၀) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၅၀၀၀.၀၀ သန်း(အမေရိကန်ဒေါ်လာ ၇.၂၉ သန်း အပါအဝင် စုစုပေါင်းကျပ် နှစ်သောင်းငါးထောင် သန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စာအမှတ် ၄၅၉၉-၈
ရက်စွဲ ၂၈-၆-၂၀၁၅
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ကန့်သတ်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၅၁ /၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် ဇွန် လ ၂၈ ရက်

၁။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်) သည် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနပိုင် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့အနီး သူဌေးကျွန်း (ပိုလိုရူးကျွန်း)ရှိ မြေ(၁၈၀၀)ဧက တွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၅ ခုနှစ်၊ ဇွန် လ ၅ ရက်နေ့တွင် ကျင်းပသောကော်မရှင်၏ (၁၀/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ "ခွင့်ပြုမိန့် ထုတ်ပေးရန်" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၀၆၂ /၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှနုတ်ပယ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက် ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများတင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက်အကောင်အထည်ဖော် ရမည်။

၅။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ အတည်ပြုပြီးဖြစ်သော ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန နှင့် ပြင်ဆင်ချုပ်ဆိုမည့် BOT သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ နှစ်ရှည်မြေငှားရမ်းခြင်း သဘောတူ စာချုပ် လက်မှတ်ရေးထိုးသည့် ၁၉၉၂ ဩဂုတ်လ ၂၁ ရက်နေ့မှ စတင်၍ ကနဦး နှစ် (၅၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ (၁၀)နှစ်သက်တမ်း(၂)ကြိမ်ဖြစ်သည်။ ထိုသို့စာချုပ်သက်တမ်း ကာလတိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)သည် နှစ်စဉ် မြေငှားရမ်းခများကို တစ်ဖက်ပါအတိုင်းပေးချေရပါမည်-

(၁) ပထမ (၁၀)နှစ်အတွက် ကျပ် (၂၅၀) သန်း (သို့မဟုတ်) စုစုပေါင်းဝင်ငွေ၏ (၅%)အနက် များရာ ပေးသွင်းရန်။

(၂) ဒုတိယ (၁၀)နှစ်အတွက် ကျပ် (၄၀၀) သန်း (သို့မဟုတ်) စုစုပေါင်းဝင်ငွေ၏ (၅%)အနက် များရာ ပေးသွင်းရန်။

(၃) ဒုတိယ(၁၀)နှစ်၏ နောက်ပိုင်းနှစ်များအတွက် ကျပ် (၆၀၀) သန်း (သို့မဟုတ်) စုစုပေါင်းဝင်ငွေ၏ (၅%)အနက် များရာ ပေးသွင်းရန်။

၉။ မြေငှားရမ်းခကို (၅)နှစ်လျှင် တစ်ကြိမ် ပြန်လည်ပြင်ဆင် သတ်မှတ်ရန်အတွက် ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၁၀။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)သည် ဟိုတယ်တိုးချဲ့တည်ဆောက်ခြင်းကို ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး တည်ဆောက်ရေးကာလ (၂)နှစ်အတွင်း ပြီးစီးအောင် တည်ဆောက်ရမည်။

၁၁။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီး ဌာန နှင့် Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်) တို့ ချုပ်ဆိုမည့် Amendment of Build, Operate and Transfer Contract နှင့် Amendment of Lease Agreement လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့ တင်ပြရမည်။

၁၂။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)သည် ဟိုတယ်တည်ဆောက်ရေး လုပ်ငန်းများနှင့်စပ်လျဉ်း၍ ဟိုတယ်နှင့်ခရီး သွားလာရေး လုပ်ငန်းဝန်ကြီး ဌာန၏ ကြီးကြပ်မှုကို ခံယူရမည်။

၁၃။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်) BOT သဘောတူစာချုပ် သက်တမ်း ကာလအတွင်း ထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၅။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့်ကိုက်ညီစေရေးအတွက်လည်းကောင်း၊ သက်ဆိုင်ရာ

ဥပဒေများ ပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာ ဆောင်ရွက်ရမည်။

၁၆။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၇။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေး တို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ရေးဆွဲတင်ပြရန်၊ လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှု အခြေအနေကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၈။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၁။ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်ပြည်ပမှတင်သွင်းသည့်ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်း မပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာမှ စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက်သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ် ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄ /မ-၁၄၇၅/၂၀၁၅(၄၅၉-က)

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇွန်လ ၂၈ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ထားဝယ်မြို့
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

၇

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ ရန်ကုန်မြို့

မန်နေဂျင်းဒါရိုက်တာ၊ Grand Andaman Company Limited (ဂရမ်း အက်ဒမန် ကုမ္ပဏီ လီမိတက်)

## Grand Andaman Co., Ltd. မှ နိုင်ငံတကာအဆင့်မီ အဆင့်မြင့်ဟိုတယ် တည်ဆောက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန် ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၃-၃-၂၀၁၅ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂၇-၃-၂၀၁၅ | ၃၁-၃-၂၀၁၅ | (၄) ရက် |
| | (ခ) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂-၄-၂၀၁၅ | ၁၀-၄-၂၀၁၅ | (၈)ရက် |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂-၄-၂၀၁၅ | ၂၉-၄-၂၀၁၅ | (၂၇) ရက် |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၂-၄-၂၀၁၅ | ၁၉-၅-၂၀၁၅ | (၄၇) ရက် |
| ၃။ | PAT အစည်းအဝေး (၁၃/၂၀၁၅) (၃၀-၃-၂၀၁၅)သို့ တင်ပြခြင်း | ၃၀-၃-၂၀၁၅ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၂၃-၄-၂၀၁၅ | ၈-၅-၂၀၁၅ | (၁၄) ရက် |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပေးပို့ခြင်း | ၁၄-၅-၂၀၁၅ | | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(၇)စုံ ပြန်လည်ပေးပို့ခြင်း PAT အစည်းအဝေးဆုံးဖြတ် ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်း | ၂၁-၅-၂၀၁၅ | | |
| ၇။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | ၁၀ /၂၀၁၅ | | |
| ၈။ | **စုစုပေါင်းကြာမြင့်ရက်** | **(၅၄) ရက်** | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Grand Andaman Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| တည်နေရာ | - | တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်း မြို့အနီး၊ သူဌေးကျွန်း(ပိုလိုရှူးကျွန်း)၊ မြေနေရာ (၁၈၀၀)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၂၅၀၀၀.၀၀ သန်း (US$ ၇.၂၉ သန်းအပါအဝင်) |
| လုပ်ငန်းသက်တမ်း | - | ကနဦး နှစ် (၅၀) နှင့် (၁၀)နှစ် (၂) ကြိမ် |
| အရင်းကြေကာလ | - | (၁၁) နှစ် (၅)လ |
| IRR | - | ၉.၃ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၈၁၅.၀၀ | |
| ၄ | ဝင်ငွေခွန် | | ၅၁၄၃.၂၄ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၄၆၃၆.၄၈ |
| ၆ | မြေငှားရမ်းခ | | ၂၅၀.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၃၄၃.၅၀ |
| ၈ | CSR (၂%) | | ၃၀၈.၅၉ |
| | | | ပြည်တွင်းဝန်ထမ်း (၁၂၅)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | **စုစုပေါင်း** | ၂၈၁၈.၀၀ | ၁၀၆၈၃.၀၀ |
| | Cost : Benefit | ၁ : ၄ | |

## Grand Andaman Co., Ltd. မှ နိုင်ငံတကာအဆင့်မီ အဆင့်မြင့်ဟိုတယ် တည်ဆောက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Grand Andaman Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်လွင် (အဘ-ဦးအလင်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ / မြေ အကျယ်အဝန်း | - ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနပိုင်၊ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်၊ သူဌေးကျွန်း (ပိုလိုရှူးကျွန်း) ရှိမြေ (၁၈၀၀)ဧက |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု**<br>- ငွေပမာဏ<br>- စက်ပစ္စည်းများနှင့် လျှပ်စစ်ပစ္စည်းများ<br>- အဆောက်အဦ | **ကျပ် ၂၅၀၀၀.၀၀ သန်း (US$ ၇.၂၉ သန်း အပါအဝင်)**<br>ကျပ် ၁၉၀၂၀.၀၀ သန်း (US$ ၁.၆၆ သန်း အပါအဝင်)<br>ကျပ ၄၆၉၀.၀၀ သန်း (US$ ၄.၃၄ သန်းအပါအဝင်)<br><br>ကျပ် ၁၂၉၀.၀၀ သန်း (US$ ၁.၂၉ သန်း) |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် ဖြစ်ပါသည်။ |
| ၇။ | မြေငှားရမ်းခနှုန်းထား | - ပထမ (၁၀)နှစ် မြေ (၁၈၀၀) ဧကအတွက် ၁ နှစ်လျှင် ကျပ် (၂၅၀) သန်း<br>ဒုတိယ (၁၀)နှစ် မြေ (၁၈၀၀) ဧကအတွက် ၁ နှစ်လျှင် ကျပ် (၄၀၀) သန်း<br>တတိယ(၁၀)နှစ် မြေ (၁၈၀၀) ဧကအတွက် ၁ နှစ်လျှင် ကျပ် (၆၀၀) သန်း |
| ၈။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၉။ | ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း (ပထမနှစ်) | Occupancy rate ၆၀ % |

| စဉ် | အမျိုးအစား | အခန်းအရေအတွက် | ဝန်ဆောင်ခနှုန်း US$ |
|---|---|---|---|
| (က) | Superior | ၁၀၂ | ၈၀ |
| (ခ) | Deluxe | ၁၉၁ | ၁၃၀ |
| (ဂ) | Victoria Suite | ၈ | ၂၀၀ |
| (ဃ) | Andaman Suite | ၄ | ၃၀၀ |
| | စုစုပေါင်း | ၃၀၅ | |

| | | |
|---|---|---|
| ၁၀။ | ကုမ္ပဏီ၏ ဝင်ငွေ (ပထမနှစ်) | - US$ ၇.၃၉ သန်း |
| | အသုံးစရိတ် (ပထမနှစ်) | - US$ ၆.၉၅ သန်း |
| | အသားတင်အမြတ် (ပထမနှစ်) | - US$ ၀.၄၄ သန်း |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>ဝင်ငွေခွန် (ပထမနှစ်)<br>ကုန်သွယ်လုပ်ငန်းခွန် (ပထမနှစ်) | <br>- US$ ၀.၁၅ သန်း<br>- US$ ၀.၃၅ သန်း |

| | | |
|---|---|---|
| ၁၂။ | ဝန်ထမ်းအင်အား ပြည်တွင်း | - **၁၂၅ ဦး**<br>၁၂၅ ဦး အနိမ့်ဆုံးဝန်ထမ်း(၁)ဦး၏လစာမှာ US$ ၁၅၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ US$ ၂၅၀၀ ဖြစ်ပါသည်။) |
| ၁၃။ | အရင်းကြေကာလ | - (၁၁)နှစ်၊ (၅) လ |
| ၁၄။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၉.၃ % |
| ၁၅။ | ငွေကြေးအထောက်အထား | - ကျပ်ငွေအထောက်အထားအဖြစ် Grand Andaman Co.,Ltd. အမည်ဖြင့် KANBAWZA Bank (လမ်းမတော်ဘဏ်ခွဲ)တွင် (၁၂-၁-၂၀၁၅) နေ့စွဲရှိ စာရင်းဖွင့် ငွေလက်ကျန် ကျပ်(၁၅၀၀.၁၂) သန်း ရှိကြောင်း တင်ပြထား သည့် အတွက် သုံးစွဲမည့်ကျပ်ငွ (၁၇၇၁၀) သန်းအတွက် (၁၁.၈၀%) ရှိကြောင်း တွေ့ရှိရပါသည်။ ချေးငွေအနေဖြင့် ကမ္ဘောဇဘဏ် မှ ကျပ်(၁၆၅)သန်း ကို အတိုးနှုန်း(၁၃%)ဖြင့် ချေးယူမည်ဖြစ်ကြောင်းနှင့် (၁၁)နှစ်အတွင်းပြန်လည် ပေးဆပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- နိုင်ငံခြားငွေ အထောက်အထားအဖြစ် Grand Andaman Co., Ltd. အမည်ဖြင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ် (MICB) တွင် (၂၇-၁၀-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် US$ (၁.၅၃)သန်းရှိကြောင်း တင်ပြ ထားသည့်အတွက် သုံးစွဲမည့်နိုင်ငံခြားငွေ (၇.၂၉)သန်း အတွက် (၄.၇၆%) ရှိကြောင်းတွေ့ရှိရပါသည်။ |
| ၁၆။ | လျှပ်စစ်ဓါတ်အား | - ကိုယ်ပိုင် Generator ဖြင့် အသုံးပြုမည်ဖြစ်ပါသည်။ |
| ၁၇။ | အခြားတင်ပြချက်များ | - ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွား ညွှန်ကြားမှုဦးစီးဌာန နှင့် Andaman Club Co., Ltd.၊ Grand Andaman Co., Ltd. တို့ ချုပ်ဆိုထားသော Tripartite Agreement on Transfer of all Legal Rights and Liabilities of Thahtay Kyun Resort Hotel (Andaman Club Resort Hotel) ကို တင်ပြထားပါသည်။<br>- Grand Andaman Co., Ltd. မှ မူလ Andaman Club Co., Ltd. ၏ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီး ဌာနသို့ပေးရန်ရှိသည့် မြေငှား ရမ်းခကြွေးမြီများနှင့် အခြားဌာနများသို့ ပေးရန်ရှိသည့် အခွန်အခများ ပေးချေပြီး ဖြစ်ကြောင်းတင်ပြထားပါသည်။<br>- မြေငှားရမ်းခကို မူလကုမ္ပဏီနှင့် စတင်ခဲ့သော (၂၅-၁၁-၁၉၉၅) မှစ၍ ကနဦး (၅၀) နှစ် နှင့် ကော်မရှင်မှ (၁၀)နှစ် (၂)ကြိမ် သက်တမ်းတိုးခွင့် ပြုပေးပါရန် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီး ဌာနမှ တင်ပြထား ပါသည်။<br>- နှစ်စဉ်မြေငှားရမ်းခများကို ခွင့်ပြုချက်ရှိပြီး သဘောတူစာချုပ် လက်မှတ်ရေး ထိုးချိန်မှစ၍ နှစ်စဉ် ပထမ(၁၀)နှစ်အတွက် ကျပ်သန်း(၂၅၀) (သို့မဟုတ်) စုစုပေါင်း ဝင်ငွေ၏ (၅%) အနက် များရာပေးသွင်းရန်၊ ဒုတိယ (၁၀)နှစ် အတွက် ကျပ်သန်း (၄၀၀)(သို့မဟုတ်) စုစုပေါင်းဝင်ငွေ၏ (၅%) အနက် |

များရာပေးသွင်းရန်၊ ဒုတိယ (၁၀)နှစ်၏ နောက်နှစ်များအတွက် ကျပ်သန်း (၆၀၀) သို့မဟုတ် စုစုပေါင်း ဝင်ငွေ၏ (၅%) အနက် များရာပေးသွင်းရန် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီး ဌာနမှ တင်ပြထားပါသည်။

၁၈။ ကော်မရှင် ရုံးအဖွဲ့မှ စိစစ် တင်ပြချက်

(က) မူလ Andaman Club Co., Ltd. ၏ မတည်ရင်းနှီးငွေပမာဏမှာ အမေရိကန်ဒေါ်လာ ၂၅ သန်းနှင့် အိပ်ခန်းပေါင်း ၂၀၀ ပါဝင်သည့် ဟိုတယ်ဖြစ်ပြီး ယခုမြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုအနေဖြင့် မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၇.၂၉သန်း အပါအဝင် ကျပ်သန်းပေါင်း ၂၅၀၀၀ ဖြစ်ပြီး အိပ်ခန်း ၃၀၅ ခန်းပါ ဟိုတယ်တည်ဆောက်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ အိပ်ခန်း ၁၀၅ ခန်းအား (၂)နှစ်အတွင်း ထပ်မံတိုးချဲ့ တည်ဆောက်မည်ဖြစ်ပြီး အဆောက်အဦ Drawing ဒီဇိုင်းအား တင်ပြ ထားသည်ကို တွေ့ရှိရပါသည်။

(ခ) မြေငှားရမ်းခနှုန်းထားအနေဖြင့် ယခင်ငှားရမ်းသည့်နှုန်းထားနှင့် ယခုငှားရမ်းမည့် နှုန်းထားတို့ကို အောက်ပါအတိုင်းနှိုင်းယှဉ် တင်ပြအပ်ပါသည်-

| | ယခင် ငှားရမ်းသည့်နှုန်းထား | ယခု ငှားရမ်းသည့်နှုန်းထား |
|---|---|---|
| မြေငှားရမ်း ခနှုန်းထား | ပထမ(၁၀)နှစ်US$ (၀.၅)သန်း (ညီမျှသောကျပ် ၅၀၀ သန်း)<br>ဒုတိယ(၁၀)နှစ်US$(၁.၂၅)သန်း (ညီမျှသောကျပ် ၁၂၅၀ သန်း)<br>တတိယ(၁၀)နှစ်US$(၁.၅) သန်း (ညီမျှသောကျပ် ၁၅၀၀ သန်း) | ပထမ (၁၀)နှစ် ကျပ် (၂၅၀) သန်း<br>ဒုတိယ(၁၀)နှစ်ကျပ် (၄၀၀) သန်း<br>တတိယ (၁၀)နှစ် ကျပ် (၆၀၀)သန်း |

(ဂ) Andaman Club Co., Ltd.နှင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနတို့၏ မြေငှားရမ်းသည့်ကာလမှာ (၂၅-၁၁-၁၉၉၅) မှ စတင်၍ ယခင်က BOT စနစ်ဖြင့် နှစ်(၃၀) ငှားရမ်းခြင်း ဖြစ်ပြီး ယခုတွင် BOT စနစ်ဖြင့် (၂၅-၁၁-၁၉၉၅)မှ စတင်ရေတွက်ကာ နှစ်(၅၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ်ကို ကော်မရှင် ခွင့်ပြုချက်ဖြင့် လုပ်ဆောင်ခွင့်ပြုရန် တင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၂၄ နှင့် ပုဒ်မ ၂၅ အရ လုပ်ငန်းအမျိုးအစားနှင့် ရင်းနှီးမြှုပ်နှံမှုပမာဏအပေါ် မူတည်၍ ကနဦး နှစ် ၅၀ အထိ ခွင့်ပြုနိုင်ကြောင်းနှင့် ခွင့်ပြုထားသော သက်တမ်း ကုန်ဆုံးပြီးနောက် ဆက်လက်လုပ်ကိုင်လို သောရင်းနှီးမြှုပ်နှံသူအား ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် လုပ်ငန်းအမျိုးအစားအပေါ် မူတည်၍ တစ်ဆက်တည်း သက်တမ်းတိုးခွင့် ၁၀ နှစ် နှစ်ကြိမ်တိုးမြှင့်နိုင်သည်ဟု ဖော်ပြပါရှိပါသည်။

(င) အဆိုပြုလုပ်ငန်းအတွက် အောက်ဖော်ပြပါ လုပ်ငန်းသုံးယာဥ်များအား ပြည်ပမှ တင်သွင်းလိုကြောင်း တင်ပြထားပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် | ဈေးနှုန်း | တန်ဖိုး |
|---|---|---|---|---|
| (က) | Speed Boat | ၃၀ | ၃၃၀၀၀ | ၉၉၀၀၀၀ |
| (ခ) | Tour Boat | ၇ | ၁၉၉၀၀၀ | ၁၃၉၃၀၀၀ |
| (ဂ) | Hydraulic excavator | ၃ | ၁၂၀၀၀၀ | ၃၆၀၀၀၀ |
| (ဃ) | Dozer | ၂ | ၁၄၉၀၀၀ | ၂၉၈၀၀၀ |
| (င) | Dump Truck | ၅ | ၅၅၅၀၀ | ၂၇၇၅၀၀ |
| (စ) | Crane (40) ton | ၁ | ၅၂၃၀၀ | ၅၂၃၀၀ |
| | **စုစုပေါင်း** | **၄၈** | | |

(စ) အဆိုပြုလုပ်ငန်းသည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ပုဒ်မ (၇၃) အရ ကင်းလွတ်ခွင့်ကာလ ကျော်လွန်ပြီးဖြစ်ပါ၍ ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ခံစားခွင့်မရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၄/မ-၁၄၇၅/၂၀၁၅(          )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မေလ ၂၂ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Grand Andaman Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်၊ သူဌေးကျွန်း(ပိုလိုရှူးကျွန်း)တွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ဆောင်ရွက်နေသာ Andaman Club ဟိုတယ်အားမြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ပြောင်းလဲဆောင်ရွက်ပြီး နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

Grand Andaman Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်း မြို့အနီး၊ သူဌေးကျွန်း(ပိုလိုရှူးကျွန်း)၊ မြေနေရာ (၁၈၀၀)ဧက တွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ဆောင်ရွက်နေသာ Andaman Club ဟိုတယ်အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ပြောင်းလဲဆောင်ရွက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ရင်းနှီး မြှုပ်နှံသူ ဦးကျော်လွင် (အဘ-ဦးအလင်)မှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီး ဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်း ၂၀၁၅ ခုနှစ် မတ်လ (၂၃) ရက်နေ့တွင် ကျင်းပ ပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၃/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ ပါသည်။

၂။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန နှင့် Grand Andaman Co., Ltd. တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် Amendment to Build, Operate and Transfer Contract Thahtay Kyun Resort Hotel Signed on 21st August 1992 စာချုပ်(မူကြမ်း)နှင့် Amendment to Lease Agreement of the Thahtay Kyun Resort Hotel Signed on 21st August 1992 စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းကာလမှာ ဟိုတယ်စတင်ဖွင့်လှစ်ခဲ့သည့် ၁၉၉၅ခုနှစ် နိုဝင်ဘာလ ၁၅ ရက် မှ စတင်၍ ကနဦး နှစ်(၅၀)ဖြစ်ပြီး သက်တမ်းတိုးခြင်းအား **နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ် (၁၀)နှစ်(၂)ကြိမ် သက်တမ်း တိုးမြှင့်မည် ဖြစ်ပါသည်။** (အပိုဒ် -၆၊ ၇)

(ခ) နှစ်စဉ်မြေငှားရမ်းခမှာ မြေ (၁၈၀၀)ဧက အတွက် သဘောတူစာချုပ် လက်မှတ် ရေးထိုးပြီးချိန်မှစ၍ တစ်ဖက်ပါအတိုင်းပေးချေရပါသည်- (အပိုဒ် ၉)

(၁) ပထမ (၁၀)နှစ်အတွက် ကျပ် (၂၅၀) သန်း (သို့မဟုတ်) စုစုပေါင်းဝင်ငွေ၏ (၅%)အနက် များရာ ပေးသွင်းရန်။

(၂) ဒုတိယ (၁၀)နှစ်အတွက် ကျပ် (၄၀၀) သန်း (သို့မဟုတ်) စုစုပေါင်းဝင်ငွေ၏ (၅%)အနက် များရာ ပေးသွင်းရန်။

(၃) တတိယ (၁၀) နှစ်အတွက် ကျပ်(၆၀၀) သန်း (သို့မဟုတ်) စုစုပေါင်းဝင်ငွေ၏ (၅%)အနက် များရာ ပေးသွင်းရန်။

(ဂ) ငှားရမ်းခ နှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည် ပြင်ဆင်သတ်မှတ်နိုင်သည်။ အပိုဒ်- ၁၀

၃။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး(၅၀)နှစ်နှင့် နောက်ထပ် ၁၀ နှစ် ၂ ကြိမ် တိုးမြှင့်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၂)နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၇.၂၉)သန်း အပါအဝင် စုစုပေါင်း ကျပ်သန်း ၂၅၀၀၀ ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေပမာဏ | ကျပ် | ၁၉၀၂၀.၀၀ | သန်း (US$ ၁.၆၆ သန်းအပါအဝင်) |
| (ခ) | စက်ပစ္စည်းများနှင့်လျှပ်စစ်ပစ္စည်းများ | ကျပ် | ၄၆၉၀.၀၀ | သန်း (US$ ၄.၃၄ သန်းအပါအဝင်) |
| (ဂ) | အဆောက်အဦ | ကျပ် | ၁၂၉၀.၀၀ | သန်း (US$ ၁.၂၉ သန်း) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ပမာဏ** | **ကျပ်** | **၂၅၀၀၀.၀၀** | **သန်း (US$ ၇.၂၉ သန်းအပါအဝင်)** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၁၂၅)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်း(၁)ဦး၏ လစာမှာ US$ ၁၅၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း (၁)ဦး၏ လစာမှာ US$ ၂၅၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(ပထမနှစ်) ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ=၁၀၀၀ကျပ် Occupancy rate ၆၀%

| စဉ် | အမျိုးအစား | အခန်းအရေအတွက် | ဝန်ဆောင်ခနှုန်း တစ်ခန်း/တစ်ရက် US$ |
|---|---|---|---|
| (က) | Superior | ၁၀၂ | ၈၀ |
| (ခ) | Deluxe | ၁၉၁ | ၁၃၀ |
| (ဂ) | Victoria Suite | ၈ | ၂၀၀ |
| (ဃ) | Andaman Suite | ၄ | ၃၀၀ |
| | စုစုပေါင်း | ၃၀၂ | |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ပထမနှစ်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံး စရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၇.၃၉ |
| (ခ) | အသုံးစရိတ် | ၆.၉၅ |
| (ဂ) | အသားတင်အမြတ် | ၀.၄၄ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (ပထမနှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ (၀.၃၅)သန်းနှင့် ဝင်ငွေခွန် အမေရိကန်ဒေါ်လာ (၀.၁၅)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ(၁၁)နှစ်(၅)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၉.၃ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့** **နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိကြောင်းနှင့် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိကြောင်း။

(၂) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုပါကြောင်း။

(၃) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာဖြစ်ကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက် ရေးဆွဲခြင်း၊ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း အဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များနှင့် စက်ကိရိယာများအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုစီမံကိန်းလုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ရေးဆွဲတင်ပြရန်နှင့် IEE

လေ့လာဆန်းစစ်ချက် အရ လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာ ရေးဆွဲတင်ပြရန်။

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက် ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးသည့်စနစ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေနှင့် ဝန်ဆောင်မှုလုပ်ငန်း အစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်(Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) မိလ္လာအညစ်အကြေး စွန့်ထုတ်မှု လုပ်ငန်းစဉ်များ၊ အညစ်အကြေး သန့်စင်မှု လုပ်ငန်း စနစ်များ၊ ရေဆိုးပြန်လည် သန့်စင်မှုလုပ်ငန်းစနစ်များ၊ အစိုင်အခဲ စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှု၊ရေရယူအသုံးပြုမှုနှင့်ရေစီမံခန့်ခွဲမှုစနစ်များအား ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်။

(၅) သတ်မှတ် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်။
**(Grand Andaman Co.,Ltd. မှ အဆိုပြုလုပ်ငန်းအတွက် အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး လေ့လာခြင်း(Initial Environmental Examination-IEE) ၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ရေးဆွဲဆောင်ရွက်မည် ဖြစ်ကြောင်း ၂၀၁၅ ခုနှစ် မေလ ၁၄ ရက်နေ့ ရက်စွဲပါ စာဖြင့်တင်ပြထားပါသည်။**

(ဂ) **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

(၁) ဟိုတယ်လုပ်ငန်းလွှဲပြောင်းဆောင်ရွက်နိုင်ရေးအတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ဥပဒေကြောင်းဆိုင်ရာ အကြံပြုချက်အရ သုံးဦးသုံးဖလှယ် သဘောတူညီမှုဖြစ်သော Tripartite Agreement on Transfer of all legal Rights and Liabilities of Thahtay Kyun Resort Hotel (Andaman Club Resort) ကို ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၂၉ ရက် နေ့တွင် လက်မှတ်ရေးထိုး၍ ဟိုတယ်လုပ်ငန်းကို Grand Andaman Co., Ltd. သို့ လွှဲပြောင်း ဆောင်ရွက်ခွင့်ပြုခဲ့ကြောင်း။

(၂) မူလ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဟိုတယ်ဖြစ်သော Andaman Club ဟိုတယ်မှ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနသို့ ပေးသွင်းရန်ရှိသည့် ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၃၁ ရက်နေ့အထိ မြေငှားရမ်းခကြွေးကျန် အမေရိကန် ဒေါ်လာ ၁၁.၃၂၈ သန်းအား နိုင်ငံသားပိုင် Grand Andaman Co., Ltd. မှ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၂၉ ရက်နေ့တွင် ဟိုတယ်နှင့် ခရီးသွားလာရေး

လုပ်ငန်း ဝန်ကြီးဌာနသို့ ကြွေးကျန်များကို လွှဲပြောင်းလက်ခံသော Grand Andaman Co., Ltd. ကပင် ဆက်လက် ပေးသွင်းသွားမည် ဖြစ်ကြောင်း ကုမ္ပဏီမှ ဝန်ခံကတိပြု တင်ပြခဲ့ပြီး ဖြစ် ကြောင်း။

(၃) မူလနိုင်ငံခြားကုမ္ပဏီမှ ၎င်းတို့ထုတ်ပေးထားရှိသော ၁၉၉၄ ခုနှစ် နိုဝင် ဘာလ ၂၈ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် (၀၅၈/၉၂)ကို ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၃၁ ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ ပြန်လည်အပ်နှံခဲ့ပြီး ဖြစ်ပါကြောင်း။

(၄) Grand Andaman Co., Ltdမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနသို့ ပေးသွင်းရန်ရှိသည့် မြေငှားရမ်းခကြွေးမြီများ၊ အခြားဌာနများသို့ ပေးသွင်းရန် ရှိသည့် အခွန်အခများကို ပေးချေပြီးဖြစ်ကြောင်း။

(၅) Grand Andaman Co., Ltd. သည် ယခင်ကုမ္ပဏီ၏ ကြွေးကျန် ပေးဆပ်ခြင်းနှင့် ရင်းနှီးမြှုပ်နှံမှုထပ်တိုးမည်ဖြစ်ခြင်းကြောင့် မြေငှားကာလကို ပြဋ္ဌာန်းပြီးသော မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပါ ပြဋ္ဌာန်းချက်များ နှင့် အညီ မူလကုမ္ပဏီစတင်ခဲ့သော ၁၉၉၅ ခုနှစ် နိုဝင်ဘာလ ၂၅ ရက်နေ့မှစ၍ ကနဦး နှစ် ၅၀ နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးမြှင့်ခွင့် ပေးသင့်ပါကြောင်း။

(၆) မူလကုမ္ပဏီသည် နယ်စပ်ဒေသ ခရီးသွားဖွံ့ဖြိုးမှုကြောင့် ဝင်ရောက်လာမည့် ခရီးသည်များ ရှိစေရန်နှင့် Casino လုပ်ငန်းကို စည်းမျဥ်းစည်းကမ်းများနှင့် အညီ ဆောင်ရွက်ရန် ရည်ရွယ်၍ ငှားရမ်းခအား ပြည်တွင်းပိုင် ဟိုတယ်များ၏ နှုန်းထားများထက် တိုးမြှင့် သဘောတူခဲ့သော်လည်း Casino လုပ်ငန်း ဆောင်ရွက်ရန် အဆိုပါဒေသသို့ ခရီးသည်ဝင်ရောက်မှု နည်းပါးခြင်း၊ Casino ခွင့်ပြုချက်မရသေးခြင်း၊ လုပ်ငန်းမဖွံ့ဖြိုးခဲ့ခြင်း၊ လျှပ်စစ်မီးမရရှိသေးသဖြင့် စက်သုံးဆီပြင်ပမှ ဝယ်ယူသုံးစွဲရခြင်းနှင့် ဝန်ထမ်းစရိတ်စသော ကုန်ကျစရိတ်များပြားခြင်း၊ မူလကုမ္ပဏီမှာ အရှုံးပေါ်ခြင်းများနှင့် ရင်ဆိုင်ခဲ့ရခြင်းကြောင့် အခြားသူများသို့ လွှဲပြောင်း ပေးရခြင်း နှင့် ယခုလျှောက်ထားသော Grand Andaman Co., Ltd.မှ Andaman Club Resort Co., Ltd. ကပေးရန် အခက်အခဲဖြစ်ခဲ့သော မြေငှားရမ်းခ ကြွေးကျန်ပေးဆပ်ခဲ့ရခြင်းကို ထောက်ရှု၍ လည်းကောင်း၊ ပြည်တွင်းပိုင်းရှိ အခြားဟိုတယ်ကဲသို့ ဖွင့်လှစ်ပြီး အခန်း ၂၀၀ အပေါ် အခြေခံ၍ ငှားရမ်းခတွက်ချက်မှုအပေါ်ဒေသ၏ ရာသီဥတု အခြေအနေ အရ ဟိုတယ်အမှန်တကယ် ဖွင့်လှစ်ရသော ပွင့်လင်းရာသီ (၆)လအပေါ် အခြေခံမှုအရလည်း ကောင်း၊ ယခုမှ လုပ်ငန်းစတင်ဆောင်ရွက်ရမည့်Grand Andaman Co., Ltd. ၏ နှစ်စဥ်မြေငှားရမ်းခ နှုန်းထားများအား တစ်ဖက်ပါ အတိုင်း သတ်မှတ်သင့်ပါကြောင်း-

(က) ခွင့်ပြုချက်ရရှိပြီး သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးချိန်မှစ၍ ပထမ ၁၀ နှစ်အတွက် ကျပ် (၂၅၀) သန်း (သို့မဟုတ်) စုစုပေါင်း ဝင်ငွေ၏ (၅%)အနက် များရာ ပေးသွင်းရန်။

(ခ) ဒုတိယ ၁၀ နှစ်အတွက် ကျပ် (၄၀၀) သန်း (သို့မဟုတ်) စုစုပေါင်း ဝင်ငွေ၏ (၅%)အနက် များရာ ပေးသွင်းရန်။

(ဂ) တတိယ ၁၀ နှစ်အတွက် ကျပ် (၆၀၀) သန်း (သို့မဟုတ်) စုစုပေါင်း ဝင်ငွေ၏ (၅%)အနက် များရာ ပေးသွင်းရန်။

(ဃ) နှစ်စဉ် မြေငှားရမ်းခနှုန်းထား တိုးမြှင့်ရေးကို (၅)နှစ် တစ်ကြိမ် ပြန်လည်သုံးသပ်ရန်။

(င) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-ဃ)**

(၁) တနင်္သာရီတိုင်းတွင် တည်ဆောက်မည့် ဟိုတယ်တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံနှုန်းနှင့်အညီ တည်ဆောက်ရန်နှင့်စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများအသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိကြောင်း။

(၂) အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| စဉ် | ပစ္စည်းအမျိုးအစား | MICစာအုပ်ပါ အရေအတွက် (Ton) | BQ တွင်ပါဝင်သော အရေအတွက် (Ton) | ထောက်ခံ တင်ပြသော အရေအတွက် (Ton) |
|---|---|---|---|---|
| (က) | Cement | ၁၈၅၀ | ၁၃၀၀ | ၁၂၇၂ |
| (ခ) | Rebar | ၅၉၆ | ၃၅၀၀ | ၃၁၉ |
| (ဂ) | Paint | ၃၃၀၀ GL | ၃၀၀၀ GL | ၂၈၄၄ GL |

(၃) To be Imported, Exhibit-5 ထဲမှ Ready Made Thatch Roof with Insulation-14000 m2 ကိုလည်း ပြည်ပမှတင်သွင်းခြင်းမပြုဘဲ လိုအပ်သည့်အခါ ပြည်တွင်းမှဝယ်ယူ၍ ဆောက်လုပ်မည်ဖြစ်ပါကြောင်း။

(၄) အဆိုပြုလုပ်ငန်း တင်ပြထားသော စီမံကိန်းအားစိစစ်ရာတွင် တင်ပြသောပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်သည့်အတွက် လိုအပ်ပါက ပြန်လည်စိစစ်မှုများ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း။

(၅) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

**(ကုမ္ပဏီမှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ ထောက်ခံချက်နှင့်အညီ ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများကို ၁၉-၅-၂၀၁၅ ရက်နေ့ပါစာဖြင့် ပြင်ဆင် တင်ပြလာပါသည်။)**

၁၀။ ကျပ်ငွေအထောက်အထားအဖြစ် Grand Andaman Co.,Ltd. အမည်ဖြင့် KANBAWZA Bank (လမ်းမတော်ဘဏ်ခွဲ)တွင် (၁၂-၁-၂၀၁၅) နေ့စွဲရှိ စာရင်းဖွင့် ငွေလက်ကျန် ကျပ်(၁၅၀၀.၁၂) သန်း ရှိကြောင်း တင်ပြထားသည့် အတွက် သုံးစွဲမည့်ကျပ်ငွေ (၁၇၇၁၀) သန်းအတွက် (၁၁.၈၀%) ရှိကြောင်း တွေ့ရှိရပါသည်။ ချေးငွေအနေဖြင့် ကမ္ဘောဇဘဏ် မှ (၁၆၅)သန်း ကို အတိုးနှုန်း (၁၃%)ဖြင့် ချေးယူမည်ဖြစ်ကြောင်းနှင့် (၁၁)နှစ်အတွင်းပြန်လည်ပေးဆပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ နိုင်ငံခြားငွေအထောက်အထားအဖြစ် Grand Andaman Co., Ltd. အမည်ဖြင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ် (MICB) တွင် (၂၇-၁၀-၂၀၁၄) ရက်စွဲဖြင့် ငွေလက်ကျန် US$ (၁.၅၃)သန်းရှိကြောင်း တင်ပြထားသည့်အတွက် သုံးစွဲမည့်နိုင်ငံခြား ငွေ (၇.၂၉)သန်း အတွက် (၄.၇၆%) ရှိကြောင်းတွေ့ရှိရပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိပါကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွား စေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင် ကာကွယ်မှုအစီအမံများ ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၂။ ဝန်ထမ်းများသက်သာချောင်ချိရေးအနေဖြင့် ဝန်ထမ်းများအတွက် အဆောင်စီစဉ်ခြင်း၊ နေအိမ်စရိတ် ခံစားခွင့်ရှိခြင်း၊ နှစ်စဉ် ယူနီဖောင်းချုပ်ပေးခြင်း၊ ထမင်းစားချိန်နှင့် မုန့်စားချိန်တို့တွင် ကျန်းမာရေးနှင့် ညီညွတ်၍ သန့်ရှင်းလတ်ဆတ်သော အစားအသောက်များ အဆင်ပြေစွာ ဝယ်ယူစားသုံးနိုင်ရန် Canteen ဖွင့်လှစ်ခြင်း၊ ၂၄ နာရီ ဝန်ဆောင်မှုလုပ်ငန်းဖြစ်သည့်အတွက် ဝန်ထမ်းများ လုပ်ငန်းခွင်တွင် သက်သောင့်သက်သာနှင့်အချိန်ပြည့် တာဝန်ထမ်းဆောင်ရန် အလုပ်စားပွဲနေရာများ၊ နားနေခန်းများ၊ ခုံများ လုံလောက်စွာ စီစဉ်ခြင်း၊ လစဉ်ကျန်းမာရေးစရိတ်အား ဟိုတယ်မှ သတ်မှတ်နှုန်းထားအတိုင်း ခံစားခွင့်ပြုခြင်း၊ ခရီးစရိတ်ပေးခြင်း၊ ကျွမ်းကျင်မှုအလိုက် နှစ်တိုးခံစားခွင့် ရာထူးတိုးမြှင့်ခံစားခွင့် ရှိခြင်း၊ လစာအပြင် အချိန်ပိုလုပ်ခပေးခြင်း ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ပေးခြင်းများပြုလုပ်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ CSR (Corporate Social Responsibility) အတွက် နှစ်စဉ်အသားတင်အမြတ်၏ ၂ % ကို သုံးစွဲရန် လျာထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ လျှပ်စစ်ဓါတ်အား အသုံးပြုမှုနှင့် စပ်လျဉ်း၍ ကိုယ်ပိုင် Generator ဖြင့် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) မူလ Andaman Club Co., Ltd. ၏ မတည်ရင်းနှီးငွေပမာဏမှာ အမေရိကန်ဒေါ်လာ ၂၅ သန်းနှင့် အိပ်ခန်းပေါင်း ၂၀၀ ပါဝင်သည့် ဟိုတယ်ဖြစ်ပြီး ယခုမြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုအနေဖြင့် မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၇.၂၉သန်း အပါအဝင် ကျပ်သန်းပေါင်း ၂၅၀၀၀ ဖြစ်ပြီး အိပ်ခန်း ၃၀၅ ခန်းပါ ဟိုတယ်

တည်ဆောက်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ အိပ်ခန်း ၁၀၅ ခန်းအား (၂)နှစ်အတွင်း ထပ်မံတိုးချဲ့ တည်ဆောက်မည်ဖြစ်ပြီး အဆောက်အဦ Drawing ဒီဇိုင်းအား တင်ပြထားသည်ကို တွေ့ရှိရပါသည်။

(ခ) မြေငှားရမ်းခနှုန်းထားအနေဖြင့် ယခင်အဆိုပြုချက်နှင့် ယခုအဆိုပြုချက် အနေ ဖြင့် အောက်ပါအတိုင်းနှိုင်းယှဉ် တင်ပြအပ်ပါသည်-

| | ယခင် ငှားရမ်းသည့်နှုန်းထား | ယခု ငှားရမ်းသည့်နှုန်းထား |
|---|---|---|
| မြေငှားရမ်းခ နှုန်းထား | ပထမ(၁၀)နှစ်US$ (၀.၅)သန်း (ညီမျှသောကျပ် ၅၀၀ သန်း)<br>ဒုတိယ(၁၀)နှစ်US$(၁.၂၅)သန်း (ညီမျှသောကျပ် ၁၂၅၀ သန်း)<br>တတိယ(၁၀)နှစ်US$(၁.၅) သန်း (ညီမျှသောကျပ် ၁၅၀၀ သန်း) | ပထမ (၁၀)နှစ် ကျပ် (၂၅၀) သန်း<br>ဒုတိယ(၁၀) နှစ် ကျပ် (၄၀၀) သန်း<br>တတိယ (၁၀)နှစ် ကျပ် (၆၀၀)သန်း |

(ဂ) Andaman Club Co., Ltd.နှင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနတို့၏ မြေငှားရမ်းသည့် ကာလမှာ (၂၅-၁၁-၁၉၉၅) မှ စတင်၍ ယခင်က BOT စနစ်ဖြင့် နှစ်(၃၀) ငှားရမ်းခြင်း ဖြစ်ပြီး ယခု တွင် BOT စနစ်ဖြင့် (၂၅-၁၁-၁၉၉၅)မှ စတင်ရေတွက်ကာ နှစ်(၅၀)နှစ် နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ်ကို ကော်မရှင် ခွင့်ပြုချက်ဖြင့် လုပ်ဆောင်ခွင့်ပြုရန် တင်ပြထားပါသည်။

(ဃ) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၂၄ နှင့် ပုဒ်မ ၂၅ အရ လုပ်ငန်းအမျိုးအစားနှင့် ရင်းနှီးမြှုပ်နှံမှုပမာဏအပေါ်မူတည်၍ ကနဦး နှစ် ၅၀ အထိခွင့်ပြုနိုင်ကြောင်းနှင့် ခွင့်ပြုသက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်လုပ်ကိုင်လိုသော ရင်းနှီးမြှုပ်နှံသူအား ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် လုပ်ငန်းအမျိုးအစားအပေါ်မူတည်၍ တစ်ဆက်တည်း သက်တမ်းတိုးခွင့် ၁၀ နှစ် နှစ်ကြိမ်တိုးမြှင့်နိုင်သည်ဟု ဖော်ပြပါရှိပါသည်။

(င) အဆိုပြုလုပ်ငန်းအတွက်အောက်ဖော်ပြပါလုပ်ငန်းသုံးယာဉ်များအားပြည်ပမှ တင်သွင်းလိုကြောင်း တင်ပြထားပါသည် -

| စဉ် | အမျိုးအစား | အရေအတွက် | ဈေးနှုန်း | တန်ဖိုး |
|---|---|---|---|---|
| (က) | Speed Boat | ၃၀ | ၃၃၀၀၀ | ၉၉၀၀၀၀ |
| (ခ) | Tour Boat | ၇ | ၁၉၉၀၀၀ | ၁၃၉၃၀၀၀ |
| (ဂ) | Hydraulic excavator | ၃ | ၁၂၀၀၀၀ | ၃၆၀၀၀၀ |
| (ဃ) | Dozer | ၂ | ၁၄၉၀၀၀ | ၂၉၈၀၀၀ |
| (င) | Dump Truck | ၅ | ၅၅၅၀၀ | ၂၇၇၅၀၀ |
| (စ) | Crane (40) ton | ၁ | ၅၂၉၀၀ | ၅၂၉၀၀ |
| | စုစုပေါင်း | ၄၈ | | |

(စ) အဆိုပြုလုပ်ငန်းသည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ပုဒ်မ (၇၃) အရ ကင်းလွတ်ခွင့်ကာလ ကျော်လွန်ပြီးဖြစ်ပါ၍ ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ခံစားခွင့်မရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ၊ ။၈၊၈၊ဆ၊ဇ၊ည)အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလျှင်ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ Grand Andaman Co., Ltd. သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်း မြို့အနီး၊ သူဌေးကျွန်း(ပိုလိုရှူးကျွန်း)၊ မြေနေရာ (၁၈၀၀)ဧက တွင် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

M3-379
10/4

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ၂၃၁၂ / ၈၃၉ / ၈-၃၉/ အဖရ (တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၁၀ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂.၄.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၄ / မ-၁၄၇၅ / ၂၀၁၅(၂၅၄)

၁။ Grand Andaman Co.,Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့အနီး၊ သူဌေးကျွန်း(ပိုလိုရှုးကျွန်း)၊ မြေဧရိယာ(၁၈၀၀)ဧကတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်နေသော Andaman Club ဟိုတယ်အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ပြောင်းလဲဆောင်ရွက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်လွင်(အဘ-ဦးအလင်)မှ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှတစ်ဆင့် အဆို ပြုတင်ပြချက်အပေါ် သဘောထားမှတ်ချက်အား တင်ပြရန် ရည်ညွှန်းပါစာဖြင့် ညွှန်ကြားမေတ္တာရပ် ခံလာပါသည်။

၂။ အဆိုပါ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့အနီး၊ သူဌေးကျွန်း(ပိုလိုရှုးကျွန်း)၊ မြေဧရိယာ(၁၈၀၀)ဧကတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်နေသော Andaman Club ဟိုတယ်အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြောင်းလဲဆောင်ရွက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခြင်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရေးကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားပေးပို့အပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမည့်မြေနေရာသည် နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိကြောင်းနှင့် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိကြောင်း၊

(ခ) မြို့နယ်၊ ဒေသ၊ အလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွားဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်ကြောင်း၊

(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းသုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်း၊

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာဖြစ်ကြောင်း၊

၃။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့အနီး၊ သူဌေးကျွန်း(ပိုလိုရှူးကျွန်း)၊ မြေဧရိယာ (၁၈၀၀)ဧကတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်နေသော Andaman Clubဟိုတယ်အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြောင်းလဲဆောင်ရွက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခြင်းအားဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့၏ မြို့ပြအဆင့်မီစွာဖွံ့ဖြိုးတိုးတက်လာစေခြင်း၊ ဒေသတွင်း ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ပိုမိုဖွံ့ဖြိုးတိုးတက်လာစေခြင်း၊ ဒေသခံများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ဖန်တီးပေးနိုင်ခြင်း၊ ဒေသ၏ လူတစ်ဦးချင်းဝင်ငွေ Per Capital GDP နှင့် ဒေသ၏ GDP တိုးတက်လာစေခြင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှု၊ ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ ထိခိုက်မှုမရှိခြင်းတို့ကြောင့် တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် အဆိုပြုလုပ်ငန်းအား လုပ်ကိုင်ခွင့်ပြုသင့်ပါကြောင်း သဘောထားပေးပို့အပ်ပါသည်။

( မြတ်ကို )
ဝန်ကြီးချုပ်

မိတ္တူကို

Grand Andaman Co.,Ltd၊ ရန်ကုန်မြို့
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ-မ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

**စာအမှတ်** ၂/၂၂၀ (ခ)(၆) / ( ၁၇၉ /၂၀၁၅)
**ရက်စွဲ** ၂၀၁၅ ခုနှစ်၊ ဧပြီလ ၉ ရက်

NPT-2514
4.5.15

သို့

/ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

173-421
5/5

အကြောင်းအရာ။ **<u>သဘောထားမှတ်ချက် ပြန်ကြားခြင်း</u>**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၄-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၇၅/၂၀၁၅(၂၅၅)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Grand Andaman Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့အနီး၊ သူဌေးကျွန်း (ပိုလိုရူးကျွန်း) ၊ မြေနေရာ (၁၈၀၀) ဧကတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်နေသော Andaman Club ဟိုတယ်အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြောင်းလဲဆောင်ရွက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကိုပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုလွှာ၊ ရင်းနှီးမြှုပ်နှံမှုဇယား၊ အရှုံးအမြတ် စာရင်း၊ ငွေသားစီးဆင်းမှု ဇယား၊ ငွေရေးကြေးရေးဆိုင်ရာ အထောက်အထား၊ Tripartite Agreement on Transfer of all legal rights and liabilities of Thahtay Kyun Resort Hotel (Andaman Club Resort Hotel)၊ နှစ်စဉ် ရင်းနှီးမြှုပ်နှံမှုပုံစံ၊ တည်ဆောက်ရေးလုပ်ငန်းတွင် အသုံးပြုမည့် ပစ္စည်းများ၊ ယန္တရားများ၊ ဝင်ငွေ ဖော်ပြချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကာကွယ်ရေးအစီအမံ၊ ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုစီမံကိန်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြေပြုပြင်ခြင်း၊ တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများနှင့် လုပ်သားများ၏ Domestic Waste များကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းသုံးစက်နှင့် ယာဉ်ယန္တရားများကြောင့် အသံဆူညံမှု ဖြစ်ပေါ်နိုင်ခြင်း၊ စွန့်ပစ်ရေ၊ စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ Grand Andaman Co., Ltd မှ တနင်္သာရီ တိုင်းဒေသကြီး၊ ကော့သောင်းမြို့ အနီး၊ သူဌေးကျွန်း ( ပိုလိုရှုးကျွန်း ) ၊ မြေနေရာ (၁၈၀၀) ဧကတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်နေသော Andaman Club ဟိုတယ်အား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ပြောင်းလဲဆောင်ရွက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက် ၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းစီမံချက် ရေးဆွဲခြင်း၊ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်းအဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များနှင့် စက်ကိရိယာများ အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှုအတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုစီမံကိန်းလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination- IEE ) ရေးဆွဲတင်ပြရန်နှင့် IEE လေ့လာဆန်းစစ်ချက်အရ လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များ ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးသည့်စနစ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေနှင့် ဝန်ဆောင်မှုလုပ်ငန်းအစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) မိလ္လာအညစ်အကြေးစွန့်ထုတ်မှုလုပ်ငန်းစဉ်များ၊ အညစ်အကြေးသန့်စင်မှုလုပ်ငန်းစနစ်များ၊ရေဆိုးပြန်လည်သန့်စင်မှုလုပ်ငန်းစနစ်များ၊ အစိုင်အခဲစွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှု၊ ရေရယူအသုံးပြုမှုနှင့်ရေစီမံခန့်ခွဲမှုစနစ်များအား ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူလူထု တို့၏ ဆန္ဒ နှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန်၊

(စ) သတ်မှတ်ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊နည်းဥပဒေ၊ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈.ဂ ၂၀၁၅/(၂)/ နပတ (၀၆၈၉)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီ လ ၄ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Andaman Club ဟိုတယ်ကို Grand Andaman Co., Ltd မှနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြခြင်းကိစ္စ

၁။ ထိုင်းနိုင်ငံ Union Farm Engineering Co., Ltd က မြန်မာနိုင်ငံတွင် Union Farm Engineering (Myanmar) Co., Ltd ကို မှတ်ပုံတင်ဖွဲ့စည်းတည်ထောင်၍ ကော့သောင်းမြို့အနီး၊ သူဌေးကျွန်း(ပိုလိုရူးကျွန်း)မြေနေရာ(၁၈၀၀)ဧကပေါ်တွင်အမေရိကန်ဒေါ်လာ(၁၀)သန်းရင်းနှီးမြှုပ်နှံ၍ အခန်း(၂၀၀) ပါ နိုင်ငံတကာအဆင့်မီ အပန်းဖြေဟိုတယ်စီမံကိန်းကို တည်ဆောက်လုပ်ကိုင်ရန်အတွက်(၂၈-၇-၁၉၉၂) ရက်နေ့တွင် ပြုလုပ်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅/၉၂) ကြိမ်မြောက်အစည်းအဝေးခွင့်ပြုချက်ဖြင့်မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းနှင့်အနှစ်(၃၀)ငှားရမ်းခြင်းဆိုင်ရာ B.O.T စာချုပ် ကို (၂၁-၈-၁၉၉၂) ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ပါသည်။

၂။ ဆက်လက်၍သူဌေးကျွန်းဟိုတယ်စီမံကိန်းဆောင်ရွက်နေသော Union Farm Engineering Co., Ltd ၏အမည်ကို Andaman Club Co., Ltd အမည်သို့ ပြောင်းလဲခွင့်ပြုရေးကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့ရာ(၂၆-၈-၁၉၉၄) ရက်နေ့တွင်ပြုလုပ်သည့် ကော်မရှင်၏(၁၂/၉၄) ကြိမ်မြောက်အစည်းအဝေးတွင် ပြောင်းလဲခွင့်ပြုခဲ့ပါသည်။ Andaman Club Co., Ltd မှ ရင်းနှီးမြှုပ်နှံမှုပမာဏအား အမေရိကန်ဒေါ်လာ(၁၀)သန်းမှ အမေရိကန်ဒေါ်လာ(၂၅)သန်းသို့ တိုးမြှင့်ဆောင်ရွက်ခဲ့ပြီး ဟိုတယ်ကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် (၂၅-၁၁-၁၉၉၅) ခုနှစ်တွင် ဖွင့်လှစ်ခဲ့ပါသည်။

၃။ Andaman Club Co., Ltd အနေနှင့် ဟိုတယ်စတင်ဖွင့်လှစ်ခဲ့သည့် (၂၅-၁၁-၁၉၉၅) ရက်နေ့မှ(၃၁-၁၀-၂၀၁၄) ရက်နေ့ထိ ပေးသွင်းရန်ရှိသော နှစ်စဉ်မြေငှားရမ်းခ (၁၅.၇၇၅) သန်း အနက်

